# အောင်ဇမ္ဗူတောရဓမ္မရိပ်သာကျောင်း

တွင် ကိန်းဝပ်စံပယ်တော်မူသော ရွှေဟောင်းဗုဒ္ဓရုပ်ပွားတော် (၃၀၁)ဆူအား ရည်မှန်း၍ ၁။ သောက်ရေခွက် (၉)ခွက်၊ ၂။ မေတ္တသုတ် (၉)ခေါက်၊ ၃။ ဒီဝါတပတိ (၉)ခေါက်၊ ၄။ သမ္ဗုဒ္ဓေ (၉)ခေါက်ကို (၄၅)ရက် တိတိရွတ်ဖတ်ပူဇော်၍ အဓိဋ္ဌာန် ဝင်နိုင်ပါသည်။

## မေတ္တာသုတ်

၁။ "ယဿနုဘာဝတောယက္ခာ၊ နေဝဒဿန္တိ ဘီသနံ။
ယဉ္ဟိစေဝါနုယုဉ္ဇန္တော၊ ရတ္တိန္ဒိဝ" မတန္ဒိတော။
၂။ သုခံသုပတိ သုတ္တောစ၊ ပါပံ ကိဉ္စိနပဿတိ။
ဧဝမာဒိဂုဏူပေတံ၊ ပရိတ္တံ တံ ဘဏာမဟေ။
၃။ ကရဏီယ" မတ္ထကုသလေန၊ ယန္တသန္တံ ပဒံအဘိသမေစ္စ။
သက္ကောဥဇူစ သုဟုဇူစ၊ သုဝစော စဿ မုဒုအနတိမာနီ။
၄။ သန္တုဿကောစ သုဘရောစ၊ အပ္ပကိစ္စောစ သလ္လဟုကဝုတ္တိ။
သန္တိန္ဒြိယောစ နိပကောစ၊ အပ္ပဂဗ္ဘော ကုလေသွ" နနုဂိဒ္ဓေါ။
၅။ နစခုဒ္ဒ" မာစရေကိဉ္စိ၊ ယေနဝိညူပရေဥပဝဒေယျုံ။
သုခိနောဝ ခေမိနော ဟောန္တု၊ သဗ္ဗသတ္တာ ဘဝန္တု သုခိသတ္တာ။
၆။ ယေကေစိပါဏ ဘူတ"တ္ထိ၊ တသာဝါထာဝရာဝ" နဝသေသာ။
ဒီဃာ ဝါယေဝမဟန္တာ၊ မဇ္ဈိမာ ရဿကာ အဏုကထူလာ။
၇။ ဒိဋ္ဌာဝါယေဝ အဒိဋ္ဌာ၊ ယေဝဒူရေဝသန္တိ အဝိဒူရေ။
ဘူတာ ဝ သမ္ဘဝေသီဝ၊ သဗ္ဗသတ္တာ ဘဝန္တု သုခိတတ္တာ။
၈။ န ပရောပရံ နိကုဗ္ဗေထ၊ နာတိမညေထ၊ ကတ္ထစိ နကဉ္စိ။
ဗျာရောသနာ ပဋိဃသညာ၊ နာညမညဿ ဒုက္ခ" မိစ္ဆေယျ။
၉။ မာတာ ယထာနိယံပုတ္တ၊ မာယုသာ ဧကပုတ္တ" -မနုရက္ခေ။
ဧဝမ္ပိ သဗ္ဗဘူတေသု၊ မာနသံ ဘာဝယေ အပရိမာဏံ။
၁၀။မေတ္တဉ္စ သဗ္ဗလောကသ္မိ၊ မာနသံ ဘာဝယေ အပရိမာဏံ။
ဥဒ္ဓံ အဓော စ တိရိယဉ္စ၊ အသမ္ဗာဓံ အဝေရ" မသပတ္တံ။
၁၁။တိဋ္ဌံ စရံ နိသိန္နောဝ၊ သယာနောယာဝတာ" ဿဝိတမိဒ္ဓေါ။
ဧတံ သတိံအဓိဋ္ဌေယျ၊ ဗြဟ္မ" မေတံ ဝိဟာရ "မိဓ"မာဟု။
၁၂။ဒိဋ္ဌိဉ္စ အနုပဂ္ဂမ္မ၊ သီလဝါဒဿနေန သမ္ပန္နော။
ကာမေသု ဝိနယ ဂေဓံ၊ နဟိ ဇာတုဂ္ဂဗ္ဘ သေယျပုနရေတိ။

## သမ္ဗုဒ္ဓေဂါထာ

၁။ သမ္ဗုဒ္ဓေ အဋ္ဌဝီသဉ္စ
ဒွါဒသဉ္စ သဟဿကေ။
ပဉ္စသတသဟဿာနိ၊
နမာမိ သိရသာမဟံ။
၂။ အပ္ပကာ ဝါလုကာ ဂင်္ဂါ၊
အနန္တာ နိဗ္ဗုတာ ဇိနာ။
တေသံ ဓမ္မဉ္စ သံဃဉ္စ၊
အာဒရေန နမာမဟံ။
၃။ နမက္ကာရာ နုဘာဝေန၊
ဟိတွာ သဗ္ဗေ ဥပဒ္ဒဝေ။
အနေကာ အန္တရာယာပိ၊
ဝိနဿန္တု အသေသတော။

## သဗ္ဗမင်္ဂလာ ဂါထာ

၁။ ဒီဝါတပတိ အာဒိစ္စော၊
ရတ္တိံမာ ဘာတိစန္ဒိမာ။
၂။ သန္နဒ္ဓေါ ခတ္တိယော တပတိ၊
ဈာယီ တပတိ ဗြာဟ္မဏော။
၃။ အထ သဗ္ဗမဟောရတ္တိံ၊
ဗုဒ္ဓေါ တပတိ တေဇသာ။
၄။ ဧတေန သစ္စဝဇ္ဇေန၊
သောတ္ထိ မေ ဟောတု သဗ္ဗဒါ။

## မေတ္တာသုတ် ပါဠိအနက်

၁။ တစ္ဆေသူရဲ ဘီလူးများ ခြောက်လှန့်မှုမပြုအောင် စွမ်းအားထက်လှသော မေတ္တာသုတ်ပရိတ်တော်ကို နေ့ရောညဉ့် ပါရွတ်ဆိုခြင်းဖြင့် -

၂။ ၁ - ချမ်းသာစွာ အိပ်ရခြင်း၊ ၂ - အိပ်မက်ဆိုးများ မမြင်မက်ခြင်း စသော အကျိုးများ ရရှိနိုင်ပါသည်။ အို သူတော်ကောင်းအပေါင်းတို့၊ အထက်ပါကျေးဇူးဂုဏ်နှင့် ပြည့်စုံသော မေတ္တာသုတ် ပရိတ်တော်ကို ရွတ်ဆိုကြပါကုန်စို့။

၃။ လောကီလောကုတ္တရာနှစ်ဖြာအကျိုးစီးပွား၌ တတ်သိလိမ္မာ ပညာရှိသူတော်ကောင်းများသည် မေတ္တာမပွားမီ အောက်ပါသူတော်ကောင်းကျင့်စဉ်များကို လိုက်နာကျင့်သုံးရပေမည်၊

၁ - ကုသိုလ်ကောင်းမှုပြုလုပ်ရန် စွမ်းဆောင်နိုင်သူ ဖြစ်ရမည်၊ ၂ - ကိုယ်စိတ်နှစ်ပါး ရိုးသားဖြောင့်မှန်သူ ဖြစ် ရမည်၊ ၃ - စိတ်သဘောထားအထူးဖြောင့်မှန်သူ ဖြစ်ရမည်၊ ၄ - မှန်ကန်သော စကားရှိသူဖြစ်ရမည်၊ ၅ - စိတ်နှလုံး နူးညံ့သိမ်မွေ့သူ ဖြစ်ရမည်၊ ၆ - မာန်မာန ထောင်လွှားသူ မဖြစ်ရ။

၄။ ၇ - ရသမျှနှင့် ရောင့်ရဲတင်းတိမ်နိုင်သူ ဖြစ်ရမည်၊ ၈ - အစားအစာ ထွေရာမများသူ ဖြစ်ရမည်၊ ၉ - အလုပ်ကိစ္စနည်းသူဖြစ်ရမည်၊ ၁၀ - အသက်မွေးလွယ်ကူသူ ဖြစ်ရမည်၊ ၁၁ - ဣန္ဒြေ သိက္ခာရှိသူ ဖြစ်ရမည်၊ ၁၂ - ရင့်ကျက်သော အသိပညာနှင့် ပြည့်စုံသူ ဖြစ်ရမည်၊ ၁၃ - မကြမ်းတမ်း မခက်ထန်သူ ဖြစ်ရမည်၊ ၁၄ - ဆွေမျိုး (ဒကာ - ဒကာမ)များ၌ မတွယ်တာသူ ဖြစ်ရမည်။

၅။ ၁၅ - အကျင့်ယုတ်ကို လွှင့်ထုတ်သူဖြစ်ရမည်၊ အထက်ပါ ကျင့်ဝတ် ၁၅ - ပါးနှင့် ပြည့်စုံပြီးနောက် မေတ္တာပွားရမည်။

၆။ ၁ - အားလုံးသတ္တဝါ ဝေနေယျာ ချမ်းသာကြပါစေ၊ ၂ - သက်ရှိသတ္တဝါ ဝေနေယျာ ချမ်းသာကြပါစေ၊ ၃ - ကြောက် တတ်သတ္တဝါ ဝေနေယျာ ချမ်းသာကြပါစေ၊ ၄ - တည်ငြိမ်သတ္တဝါ ဝေနေယျာ ချမ်းသာကြပါစေ၊ ၅ - ကိုယ်ရှည်စွာသတ္တဝါ ချမ်းသာကြပါစေ၊ ၆ - ကိုယ်ကိုယ်စွာ သတ္တဝါချမ်းသာကြပါစေ၊ ၇ - မရှည်မတို ကိုယ်ရှိစွာ သတ္တဝါချမ်းသာကြပါစေ၊ ၈ - ကိုယ်ကြီးစွာ သတ္တဝါချမ်းသာကြပါစေ၊ ၉ - ကိုယ်သေးစွာ သတ္တဝါချမ်းသာကြပါစေ၊ ၁၀ - မကြီးမသေး အလယ်စွာ သတ္တဝါချမ်းသာကြပါစေ၊ ၁၁ - ဝသောစွာ သတ္တဝါချမ်းသာကြပါစေ၊ ၁၂ - ပိန်ကြုံစွာ သတ္တဝါ ချမ်းသာကြပါစေ၊ ၁၃ - မပိန်မဝ ရကြံစွာ သတ္တဝါ ချမ်းသာကြပါစေ၊

၇။ ၁၄ - မြင်ရသတ္တဝါ ဝေနေယျာ ချမ်းသာကြပါစေ၊ ၁၅ - မမြင်ရပါ သတ္တဝါ ချမ်းသာကြပါစေ၊ ၁၆ - ရပ်ဝေးနေရှာ သတ္တဝါ ချမ်းသာကြပါစေ၊ ၁၇ - ရပ်နီး နေရှာသတ္တဝါ ချမ်းသာကြာပါစေ၊ ၁၈ - ဖြစ်ပြီးသတ္တဝါဝေနေယျာ ချမ်းသာကြပါစေ၊ ၁၉ - ဖြစ်ဆဲသတ္တဝါ ဝေနေယျာ ချမ်းသာကြပါစေ၊ ၂၀ - သတ္တဝါချင်းချင်းမေတ္တာနှင်း၍ စိတ်ရင်းမလှန် မျက်မပြန် သည်းခံနိုင်ပါစေ၊ ၂၁ - သတ္တဝါချင်းချင်း မညှင်းဆဲဘဲ အမြဲဂရု အလေးပြု ကျိုးစုဆောင်ပါစေ၊

၈။ ၂၂ - သတ္တဝါအချင်းချင်း ရန်ငြိုးကင်း ချစ်ခြင်းမေတ္တာရှိပါစေ၊ ၂၃ - သတ္တဝါအချင်းချင်း လေးစားရင်းမြဲတင်းရှိပါစေ၊ ၂၄ - သတ္တဝါအချင်းချင်း မေတ္တာနှင်း၍ ဆင်းရဲဒုက္ခ မပေးကြ သူစဆောင်ပါစေ၊ ၂၅ - အများသတ္တဝါ ချင်းချင်းသာ မေတ္တာပွားနိုင်ပါစေ။

၉။ တစ်ယောက်သားရင် သူ့မိခင်မှာ သက်ပေးကာဖြင့် ချစ်ကျင်သူ့သား မေတ္တာထားသို့ အများသတ္တဝါ စုံးစိုက်ကာဖြင့် မေတ္တာရည်မြှိုပ်ပါဘိလော့။

၁၀။ တစ်လောကလုံး မေတ္တာဖုံးအောင် ကျယ်ကျယ်ပြန့်ပြန့် မေတ္တာပို့ပါ၊ အောက်ထက်ဖီလာ မျက်နှာအားလုံး ပြန့်နှံ့အောင် ရန်သူမိတ်ဆွေနှစ်ထွေ ခွဲခြားမထားဘဲ မေတ္တာပို့ပါ။

၁၁။ မေတ္တာပို့ရန် အချိန်အခါမှာ အထူးကန့်သတ်ချက်မရှိပါ၊ အိပ်ပျော်ချိန်မှတစ်ပါး ကျန်သောအချိန်များသည် မေတ္တာပို့ချိန် ဖြစ်ပါသည်၊ တကယ်တမ်းမေတ္တာပို့နေသော သူတော်ကောင်းကို "ဗြဟ္မဝိဟာရ - မြင့်မြတ်စွာ နေထိုင်သူ" ဟုဘုရားမြတ်စွာ ချီးကျူးတော်မူပါသည်။

၁၂။ တကယ်တမ်း မေတ္တာပို့နေသူသည် ကလျာဏပုထုဇဉ်ကနေ စုဋ္ဌသောတာပန်၊ မဟာသောတာပန်၊ သကဒါဂါမ်၊ အနာဂါမ်အထိ ဖြစ်နိုင်ပါသည်။

## သမ္ဗုဒ္ဓေ မင်္ဂလာဂါထာ

၁။ အာဒိစ္စော၊ ရောင်ခြည်တစ်ထောင် မကဆောင်သည့် ထွန်းပြောင်ထိန်လင်း ရှင်နေမင်းသည်၊ ဒီဝါ၊ မိုက်မှောင်ပယ်ရှင်း အလင်းရောက်လာ နေ့အခါ၌သာလျှင်၊ တပတိ၊ ထွန်းလင်းကျက်သရေ တင့်တယ်နိုင်ပါပေ၏။ စန္ဒိမာ၊ အေးမြချမ်းသာ ရောင်ဝါပဝင်း ရွှေလဝင်းသည်၊ ရတ္တိံ၊ အလင်းရောင်ကွယ်ပျောက် မိုက်မှောင်ရောက်ရာ ညဉ့်အခါ၌သာလျှင်၊ အာဘာတိ၊ ထွန်းလင်းကျက်သ ရေ တင့်တယ်နိုင်ပါပေ၏။

၂။ ခတ္တိယော၊ ရေမြေသြဇာနှင်း ပြည့်ရှင်မင်းသည်၊ သန္နဒ္ဓေါ၊ ရတနာစိန်ကျောက် ထိန်ထိန်တောက်သည့်မင်းမြောက်ဘဏ်ဆာ ဝတ်စားဆင်ယင်မှသာလျှင်၊ တပတိ၊ ထွန်းလင်းကျက်သရေ တင့်တယ်နိုင်ပါပေ၏၊ ဗြာဟ္မဏော၊ အာသဝေါကင်းကွာ ရဟန္တာ အရှင်မြတ်သည်၊ ဈာယီ၊ ဈာန်အဘိညာဉ်သမာပတ်ကို ဝင်စားမှသာလျှင်၊ တပတိ၊ ထွန်းလင်းကျက်သရေ တင့်တယ်နိုင်ပါပေ၏၊

၃။ အထ၊ သို့မဟုတ်၊ ဗုဒ္ဓေါ၊ သုံးလောက ထွက်ထားရှင်တော်မြတ်ဘုရားသည်ကား။ သဗ္ဗမဟောရတ္တိံ၊ နေ့ရောညပါ ဘယ်ခါမဆိုင်း၊ အချိန်ရှိတိုင်းသာလျှင် တေဇသာ၊ ကျက်သရေမင်္ဂလာတန်ခိုးတင့်တယ်ခြင်းအမျိုးမျိုးဖြင့် တပတိ၊ ထွန်းလင်းကျက်သရေဂုဏ်တက်ဝေအောင် ထူးထွေဆန်းကြယ် အံ့ဩဖွယ်လျှင် တင့်တယ်တော်မူပါပေသတည်း။

၄။ ဧတေန သစ္စဝဇ္ဇေန၊ ဤသို့မှန်ကန်သော သစ္စာစကားကို ပြောဆိုရလေသောကြောင့်၊ မေ၊ ငါသည်၊ သဗ္ဗဒါ၊ အခါခပ်သိမ်း၊ သောတ္ထိ၊ ချမ်းသာခြင်း အမျိုးမျိုးတို့သည် ဟောတု ဖြစ်ပါစေသတည်း။

## သမ္ဗုဒ္ဓေဂါထာတော်ကြီးအနက်

၁။ အဋ္ဌဝီသံ၊ သုံးပါးဘဝ သုံးလောကဌ် ညာဏ်ရောင်ဖိတ်အောင် ဘိတ်သိကံဖြင့် နှစ်ကျိပ်ရှစ်ဆူကုန်သော၊ သမ္ဗုဒ္ဓေ စ၊ သစ္စာလေးပါး မြတ်တရားကို ထိုးထွင်းသိမြင် ဘုရားရှင်တို့ကိုလည်းကောင်း၊ ဒွါဒသဉ္စ သဟဿကော၊ တစ်သောင်းနှစ်ထောင်ကုန်သော၊ သမ္ဗုဒ္ဓေ စ၊ သစ္စာလေးပါးမြတ်တရားကိုကောင်းစွာသိမြင် ဘုရားရှင်တို့ကိုလည်းကောင်း။ ပဉ္စသတသဟဿာနိ၊ ငါးသိန်းကုန်သော၊ သမ္ဗုဒ္ဓေ၊ သစ္စာလေးပါး မြတ်တရားကို ထိုးထွင်းသိမြင် ဘုရားရှင်တို့ကိုလည်းကောင်း။ အဟံ၊ ဘုရားတပည့်တော်သည်၊ သိရသာ၊ ဦးခေါင်းရတနာ မြတ်အင်္ဂါဖြင့်၊ နမာမိ၊ ရိုသေမြတ်နိုး လက်အုပ်မိုး၍ ရှိခိုးကန်တော့ပါ၏ အရှင်ဘုရား။

၂။ ဝါဠုကာ ဂင်္ဂါ၊ ဂင်္ဂါမြစ်ထဲရှိကုန်သော ကျောက်သလဲတို့သည်၊ အပ္ပကာ၊ နည်းပါးလှကုန်၏။ နိဗ္ဗုတာ၊ ပရိနိဗ္ဗာန်စံလွန်တော်မူကြကုန်သော၊ ဇိနာ၊ ငါးမာရ်အောင်မြင် ဘုရားရှင်တို့သည်၊ အနန္တာ၊ အတိုင်းမသိ များလှကုန်၏။ တေသံ၊ ထိုသဲစုက များလှသောင်းသောင်း ဘုရားရှင်အပေါင်းတို့နှင့်တကွ ငါးသိန်းတစ်သောင်းနှစ်ထောင် နှစ်ကျိပ်ရှစ်ဆူကုန်သောဘုရားရှင်တို့၏၊ ဓမ္မဥ္စ၊ မင်္ဂလေးရပ် ဖိုလ်လေးတန်နိဗ္ဗာန် ပရိယတ်တည်းဟူသော ဆယ်ပါးသော တရားတော်မြတ်အပေါင်းကိုလည်းကောင်း။ သံဃဉ္စမဂ္ဂဋ္ဌာန်၊ လေးယောက် ဖလဋ္ဌာန်လေးယောက်နှင့်တကွ မျက်မှောက် သမ္မုတိသံဃာတော် အရှင်မြတ်အပေါင်းကိုလည်းကောင်း။ အဟံ၊ ဘုရားတပည့်တော်သည်၊ အာဒရေန၊ ရိုသေမြတ်နိုး လက်စုံမိုး၍ ရှိခိုးကန်တော့ပါ၏ အရှင်ဘုရား။

၃။ နမက္ကာရ နုဘာဝေန၊ ရတနာမြတ်တရားသုံးပါးကိုရှိခိုးရသော ကုသိုလ်ကံအာနုဘော်ကြောင့်၊ သဗ္ဗေ၊ အလုံးစုံကုန်သော၊ ဥပဒ္ဒဝေ၊ဘေးရန်အပေါင်းတို့ကို၊ ဟိတွာ၊ ပယ်ဖျောက် ပယ်သက်၍ အနေ တာ၊ အန္တရာယာပိ၊ တစ်ပါးမကများပြားလှသောအန္တရာယ် အပေါင်းမကောင်းဟူသမျှတို့သည်လည်း၊ အသေသတော၊ အကြွင်းအကျန်မရှိသောအားဖြင့်၊ ဝိနာသန္တု၊ ကင်းစင်လွင့်ပ ပျောက်ပျက်ကြပါကုန်သတည်း။